




# မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်

# ခွင့်ပြုမိန့်

ခွင့်ပြုမိန့်အမှတ် မနသ – ၀၃၃/၉၆ ၁၉၉၆ ခုနှစ်၊ ဇူလိုင် လ ၂၄ ရက်။

မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေပုဒ်မ ၁၀ အရ ဤခွင့်ပြုမိန့်ကို ထုတ်ပေးလိုက်သည်။

(က) ရင်းနှီးမြှုပ်နှံသူ၏အမည် ဦး ရှုံဝင်း

(ခ) အဘအမည် ဦး မောင် အေး

(ဂ) နိုင်ငံသား/အမျိုးသားမှတ်ပုံတင်အမှတ် ၁၂/လသန(နိုင်)၀၁၆၆၆၀

(ဃ) နေရပ်လိပ်စာ အမှတ် ၁၂၊ အုတ်ကျင်း ဘုတာ ရုံလမ်း၊ လှိုင်မြို့နယ်၊ ရန်ကုန်မြို့

(င) ဖွဲ့စည်းထားသည့် သို့မဟုတ် ဖွဲ့စည်းမည့် အဖွဲ့အစည်း

Golden Triangle Garment Co., Ltd.

(စ) ရင်းနှီးမြှုပ်နှံမှုပြုလုပ်မည့် လုပ်ငန်းအမျိုးအစား

အသင့်ချုပ်ပြီး အထည်များ ထုတ်လုပ်ခြင်း

(ဆ) ရင်းနှီးမြှုပ်နှံမှုပြုလုပ်သည့် အရပ်ဒေသ(များ) အမှတ် ၁၂၊ အုတ်ကျင်း ဘုတာရုံလမ်း ၊ ၁၅ ရပ်ကွက်၊ လှိုင်မြို့နယ်၊ ရန်ကုန်မြို့

(ဇ) မတည်ငွေရင်းပမာဏ(ကျပ်) သန်း ၃၀ (ကျပ်သန်း သုံး ဆယ်တိတိ)

ဥက္ကဋ္ဌ

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
အမိန့်ကြော်ငြာစာအမှတ် ၂၇/၉၆
ရန်ကုန်မြို့၊ ၁၃၅၈ ခုနှစ်၊ ဒုတိယဝါဆိုလဆန်း ၉ ရက်
(၁၉၉၆ ခုနှစ်၊ ဇူလိုင်လ ၂၄ ရက်)

၁။ Golden Triangle Garment Co., Ltd သည် ရန်ကုန်တိုင်း၊ လှိုင်မြို့နယ်၊ ၁၅၇ ပိုင်ကွက်အမှတ် ၁၂ ဆုတ်ကျင်း ဘုတာရုံလမ်း တွင် ခေတ်မီအထည်ချုပ်စက်ပစ္စည်း ကိရိယာများ ကိုပြည်တွင်း တွင်ဝယ်ယူတပ်ဆင်တည် ဆောက်ပြီး C.M.P စနစ် (Cutting, Making and Packaging) အရအသင့်ချုပ်ပြီး အထည်များ ထုတ်လုပ်၍ပြည်ပသို့တင်ပို့ခြင်း နှင့်ပြည်တွင်း တွင် ရောင်းချခြင်း လုပ်ငန်း ဆောင်ရွက်ရန်အဆိုပြုတင်ပြချက်ကို (၅-၇-၉၆) နေ့တွင်ကျင်းပပြုလုပ်ခဲ့သည့်မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၁၀/၉၆) ကြိမ်မြောက် အစည်းအဝေး သို့တင်ပြခဲ့ရာ ကော်မရှင်မှ မူအားဖြင့်သဘောတူညီခဲ့ပြီး အစိုးရအဖွဲ့သို့ဆက်လက်တင်ပြရန်ဆုံးဖြတ်ခဲ့ပါသည်။ အဆိုပါဆုံးဖြတ်ချက်အရ (၁၀-၇-၉၆) နေ့တွင်ကျင်းပပြုလုပ်ခဲ့သည့် ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရအဖွဲ့၏ (၂၅/၉၆) ကြိမ်မြောက် အစည်းအဝေး သို့ဒုတိယဝန်ကြီးချုပ်ရုံးမှတင်ပြခဲ့ရာ ယင်းအစည်းအဝေးမှ သဘောတူကြောင်းဆုံးဖြတ်ခဲ့ပါသည်။ သို့ဖြစ်ပါ၍ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေ၊ အခန်း-၅၊ ပုဒ်မ-၁၀ အရအပ်နှင်းထား သောလုပ်ပိုင်ခွင့်များ ကိုကျင့်သုံး၍ Golden Triangle Garment Co., Ltd အား အသင့်ချုပ်ပြီး အထည်များ ထုတ်လုပ်ခြင်း လုပ်ငန်း ဆောင်ရွက်ရန်အတွက် ခွင့်ပြုမိန့်အမှတ် မနသ-၀၃၃/၉၆ ကိုထုတ်ပေး လိုက်သည်။

၂။ Golden Triangle Garment Co., Ltd အနေဖြင့်၎င်းခွင့်ပြုမိန့်အရ အသင့်ချုပ်ပြီး အထည်များ ထုတ်လုပ်ခြင်း လုပ်ငန်း ဆောင်ရွက်ရာတွင်မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေအခန်း (၇)၊ ပုဒ်မ-၁၂ အရ စီးပွားရေး လုပ်ငန်း စတင်သောနှစ်အပါအဝင်တစ်ဆက်တည်း (၃) နှစ်အတွက်ဝင်ငွေခွန် ကင်းလွတ်ခွင့်နှင့်ဥပဒေပုဒ်မ-၁၃ ပါ ပြဋ္ဌာန်းချက်များ နှင့်အညီ အောက်ဖော်ပြပါ အခွန်ကင်းလွတ်ခွင့်နှင့်သက်သာခွင့်များ ကိုခံစား ခွင့်ပြုရန်၎င်းအမိန့်ကြော်ငြာစာ ကိုထုတ်ပြန်လိုက်သည်။

(က) ဥပဒေပုဒ်မ-၁၃(ခ)အရ လုပ်ငန်းမှ နိုင်ငံခြားငွေဖြင့် ရရှိသည့်အမြတ်ငွေအပေါ်တွင် (၅၀) ရာခိုင်နှုန်းအထိ ကာလအကန့်အသတ်ဖြင့် ဝင်ငွေခွန်သက်သာခွင့်ကိုခံစားနိုင်ရန်အတွက် ဝင်ငွေခွန်ကင်းလွတ်ခွင့် (၃) နှစ်ခံစားပြီး နောက်လုပ်ငန်း၏အမှန်တကယ်အကောင်အထည်ဖော်နိုင်မှုအခြေအနေကို ဖော်ပြလျက်၎င်း ကော်မရှင်သို့တင်ပြလျှောက်ထားရမည်။

(ခ) ဥပဒေပုဒ်မ-၁၃(ဂ)အရ ထုတ်လုပ်မှုလုပ်ငန်းကြောင့်သတ်မှတ်သည့်နှုန်းအထိပြည်တွင်း၊ ပြည်ပဝင်ငွေတိုးတက်မှုရှိပါကဝင်ငွေခွန်သက်သာခွင့်ခံစားနိုင်ရန်အတွက်ဝင်ငွေခွန်ကင်းလွတ်ခွင့်ကာလကုန်ဆုံးပြီးသည့်အခါလုပ်ငန်းအကောင်အထည်ဖော်ဆောင်ရွက်နိုင်မှုအခြေအနေကိုဖော်ပြလျက် ၎င်းကော်မရှင်သို့တင်ပြလျှောက်ထားရမည်။

(ဂ) ဥပဒေပုဒ်မ-၁၃(စ)အရ လုပ်ငန်းမှရရှိသည့်အမြတ်ငွေကို သီးသန့်ရန်ပုံငွေထား၍တစ်နှစ်အတွင်းလုပ်ငန်း၌ ပြန်လည်ရင်းနှီးမြှုပ်နှံလျှင် ထိုအမြတ်ငွေအပေါ်တွင်ဝင်ငွေခွန်ကင်းလွတ်ခွင့် (သို့မဟုတ်) သက်သာခွင့်ခံစားနိုင်ရန်အတွက်ဝင်ငွေခွန်ကင်းလွတ်ခွင့်ကာလကုန်ဆုံးပြီးသည့်အခါ လုပ်ငန်းအမှန်တကယ်အကောင်အထည်ဖော်နိုင်မှုအခြေအနေကိုဖော်ပြလျက်ကော်မရှင်သို့တင်ပြလျှောက်ထားရမည်။

(ဃ) ဥပဒေပုဒ်မ-၁၃(ဆ)အရ လုပ်ငန်းသုံးမတည်ပစ္စည်းများအပေါ်တန်ဖိုးလျော့ငွေကိုသတ်မှတ်သည့်နှုန်းအတိုင်းနှစ်တိုတိုနှင့်မူလတန်ဖိုးပြည့်မီသည့်အထိ အမြတ်ငွေမှနုတ်ပယ်ခွင့်နှင့်စပ်လျဉ်း၍ယင်းတန်ဖိုးလျော့နှုန်းထားများကိုကော်မရှင်သို့တင်ပြလျှောက်ထားရမည်။

(င) ဥပဒေပုဒ်မ-၁၃(ဇ)အရ ကနဦးရင်းနှီးမြှုပ်နှံမှု ကာလအတွင်းပြည်တွင်း၌မရရှိနိုင်သည့်အမှန်တကယ်လိုအပ်၍ ပြည်ပမှတင်သွင်းသောစက်ပစ္စည်း၊ စက်အရန်ပစ္စည်း၊ စက်ဖီးရီယာအစိတ်အပိုင်း၊ လုပ်ငန်းသုံးပစ္စည်းများအပေါ်တွင်အကောက်ခွန်နှင့်အခြားပြည်တွင်းအခွန်အကောက်များနှစ်မျိုးလုံးကိုကင်းလွတ်ခွင့်ပြုသည်။

(စ) ဥပဒေပုဒ်မ-၁၃(ဈ)အရ ကနဦး ရင်းနှီးမြှုပ်နှံမှုကာလ ကုန်ဆုံး၍ ပထမ(၃)နှစ်အတွက်ကုန်ထုတ်လုပ်ရန်တင်သွင်းသည့် ကုန်ကြမ်းများ၊ လုပ်ငန်းသုံးပစ္စည်းများအပေါ်တွင် အကောက်ခွန်နှင့်အခြားပြည်တွင်းအခွန်အကောက်များ နှစ်မျိုးလုံး ကိုကင်းလွတ်ခွင့်ပြုသည်။

(ဆ) ဥပဒေပုဒ်မ-၁၃(ည)အရ ထုတ်လုပ်မည့်ပစ္စည်းများကိုပြည်ပတင်ပို့ရောင်းချမှုအပေါ်ကုန်သွယ်လုပ်ငန်းခွန်ကင်းလွတ်ခွင့်ပြုသည်။

၃။ Golden Triangle Garment Co., Ltd. ကိုမြန်မာကုမ္ပဏီများအက်ဥပဒေနှင့်အညီမှတ်ပုံတင်နိုင်ရန်အတွက်ကုမ္ပဏီများညွှန်ကြားမှုဌာန၊ ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာနသို့ လျှောက်ထားရမည်။ ကုမ္ပဏီအားမှတ်ပုံတင်ပြီးသည့်အခါ အောက်ဖော်ပြပါစာရွက်စာတမ်း (၅) စောင်စီကို ဤကော်မရှင်ရုံးသို့ ပေးပို့တင်ပြရမည်။

(က) ကုမ္ပဏီမှတ်ပုံတင်လက်မှတ် (Certificate of Incorporation)

(ခ) ကုမ္ပဏီများညွှန်ကြားမှုဌာနကအတည်ပြုပြီးဖြစ်သည့် မြန်မာ၊ အင်္ဂလိပ်နှစ်ဘာသာဖြင့်ပြုစုထားသောကုမ္ပဏီ၏ သင်းဖွဲ့စည်းမျဉ်းနှင့်သင်းဖွဲ့မှတ်တမ်းများ (Memorandum and Articles of Association)

၄။ အဆိုပြုလုပ်ငန်းကို ဆောင်ရွက်နိုင်ရန်အတွက် Golden Triangle Garment Co., Ltd. နှင့် ဒေါ်တင်တင်ဝင်း တို့ချုပ်ဆိုသည့် မြေနှင့်အဆောက်အဦငှားရမ်းခြင်းသဘောတူစာချုပ်လက်မှတ်ရေးထိုးပြီးသည့်အခါယင်းသဘောတူစာချုပ်မိတ္တူ(၅)စောင်ကို ကော်မရှင်သို့တင်ပြရမည်။

၅။ ထိုသို့မြေငှားရမ်းခြင်းနှင့်ပတ်သက်၍အငှားချထားသူနှင့်အငှားချထားခြင်းခံရသူနှစ်ဦးနှစ်ဖက်စလုံးတို့သည် နိုင်ငံတော်အစိုးရမှ မြေယာငှားချထားခြင်းနှင့်ပတ်သက်၍သတ်မှတ်ပြဋ္ဌာန်းမည့်စည်းကမ်းသတ်မှတ်ချက်များကိုတိကျစွာလိုက်နာဆောင်ရွက်ရမည်။

၆။ Golden Triangle Garment Co., Ltd. သည်ဤခွင့်ပြုမိန့်အရ အသင့်ချုပ်ပြီး အထည်များ တုတ်လုပ်ခြင်း လုပ်ငန်း ဆောင်ရွက်ရာ၌ပတ်ဝန်းကျင် လေထု၊ ရေထု၊ မြေထုညစ်ညမ်း မှုစသည်များ မဖြစ်ပေါ်စေရန်အတွက်လိုအပ်သည့် ပတ်ဝန်းကျင်ညစ်ညမ်း မှုထိန်းသိမ်း ကာကွယ်ရေး အစီအမံများ ကိုစနစ်တကျထား ရှိ ဆောင်ရွက်ရမည်။

၇။ အဆိုပြုလုပ်ငန်း စတင် ဆောင်ရွက်သည့် နေ့ရက်ကို ဤကော်မရှင်သို့အမြန်ဆုံး အစီရင်ခံရမည်။

၈။ ဤခွင့်ပြုမိန့် ပေးသည့် နေ့မှတစ်နှစ်အတွင်း လုပ်ငန်း စတင် ဆောင်ရွက်နိုင်ခြင်း မရှိပါက ဤခွင့်ပြုမိန့်သည်အလိုအလျောက်ပျက်ပြယ်ပြီး ဖြစ်သည်ဟု မှတ်ယူရမည်။

အမိန့်အရ-

(ဗိုလ်မှူး ချစ်မောင်မောင်)
အတွင်းရေးမှူး
[ ဝန်ကြီး၊ ဒုတိယဝန်ကြီး ချုပ်ရုံး ]

စာအမှတ်၊ ၇က-၁/မ-၀၅၆/၉၆ ( ၀၅၃၇၇ )။
ရက်စွဲ၊ ၁၉၉၆ ခုနှစ်၊ ဇူလိုင်လ ၂၄ ရက်။

<u>ဖြန့်ဝေခြင်း</u> -

၁။ နိုင်ငံတော်ငြိမ်ဝပ်ပိပြားမှုတည်ဆောက်ရေး အဖွဲ့ဥက္ကဋ္ဌရုံး ။

၂။ နိုင်ငံတော်ငြိမ်ဝပ်ပိပြားမှုတည်ဆောက်ရေး အဖွဲ့ရုံး ။

၃။ အစိုးရအဖွဲ့ရုံး ။

၄။ ဒုတိယဝန်ကြီး ချုပ်ရုံး ။

၅။ အမျိုးသား စီမံကိန်း နှင့်စီးပွား ရေး ဖွံ့ဖြိုး တိုး တက်မှုဝန်ကြီး ဌာန။

၆။ ဘဏ္ဍာရေး နှင့်အခွန်ဝန်ကြီး ဌာန။

၇။ ကုန်သွယ် ရေး ဝန်ကြီး ဌာန။

၈။ အမှတ်(၁) စက်မှုဝန်ကြီး ဌာန။

၉။ လူဝင်မှုကြီး ကြပ်ရေး နှင့်ပြည်သူ့အင်အား ဝန်ကြီး ဌာန။

၁၀။ ဥက္ကဋ္ဌ၊ မြန်မာနိုင်ငံ တော်ဗဟိုဘဏ်။

၁၁။ ဥက္ကဋ္ဌ၊ နိုင်ငံခြား မတည် ငွေရင်း တန်ဖိုး သတ်မှတ် ရေး အဖွဲ့ငယ်၊ (သွန်ကြား ရေး မှူး ချုပ်၊ ဗဟိုစက်ပစ္စည်း စာရင်း အင်း နှင့်စစ်ဆေး ရေး ဦး စီး ဌာန)

၁၂။ သွန်ကြား ရေး မှူး ချုပ်၊ အကောက်ခွန်ဦး စီး ဌာန။

၁၃။ သွန်ကြား ရေး မှူး ချုပ်၊ ပြည်တွင်း အခွန်များ ဦး စီး ဌာန။

၁၄။ ဦး ဆောင်သွန်ကြား ရေး မှူး ၊ မြန်မာ့အာမခံလုပ်ငန်း ။

၁၅။ သွန်ကြား ရေး မှူး ချုပ်၊ ကုန်သွယ် ရေး သွန်ကြား မှုဦး စီး ဌာန။

၁၆။ ဦး ဆောင်သွန်ကြား ရေး မှူး ၊ မြန်မာ့အထည်အလိပ်လုပ်ငန်း ။

၁၇။ ဥက္ကဋ္ဌ၊ ပြည်ထောင်စုမြန်မာနိုင်ငံကုန်သည်များ နှင့်စက်မှုလက်မှုလုပ်ငန်းရှင်များ အသင်း ။

၁၈။ သွန်ကြား ရေး မှူး ချုပ်၊ ရင်း နှီး မြှုပ်နှံမှုနှင့်ကုမ္ပဏီများ သွန်ကြား မှု ဦး စီး ဌာန။

၁၉။ Golden Triangle Garment Co., Ltd.

အမိန့်အရ—

(မောင်မောင်ရီ)
တွဲဖက်အတွင်း ရေး မှူး ။



*ဃ၁၈/၇/၉၆။